**မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဖြင့် Htoo Trading Co., Ltd. မှ B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရန် ကော်မရှင် အစည်းအဝေးသို့ တင်ပြရန် ကြာချိန်**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂-၂-၂၀၁၆ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရခိုင်ပြည်နယ်အစိုးရအဖွဲ့ရုံး | ၁၀-၂-၂၀၁၆ | ၁၄-၃-၂၀၁၆ | (၃၃)ရက် |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန | ၈-၂-၂၀၁၆ | ၇-၃-၂၀၁၆ | (၂၇)ရက် |
| | (ဂ) ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန | ၁၀-၂-၂၀၁၆ | ၁၈-၂-၂၀၁၆ | (၈)ရက် |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၆/၂၀၁၆)သို့ တင်ပြခြင်း | ၈-၂-၂၀၁၆ | | |
| ၄ | အဆိုပြုချက် လက်ခံကြောင်း ပြန်ကြားခြင်းနှင့် အဆိုပြုချက် စိစစ်ရေးအဖွဲ့အစည်းအဝေး (၆/၂၀၁၆)ဆုံးဖြတ်ချက်နှင့်အညီ တင်ပြရန် အကြောင်းကြားခြင်း | ၁၅-၂-၂၀၁၆ | | |
| ၅ | ကုမ္ပဏီမှ သဘောထား မှတ်ချက်များနှင့်အညီ ပြင်ဆင်ချက်များကို ပြန်လည်တင်ပြလာခြင်း | ၂၉-၂-၂၀၁၆ | | |
| ၆ | ကုမ္ပဏီမှ အဆိုပြုလွှာ အစုံ(၈)စုံ ပေးပို့ခြင်း | ၁၅-၃-၂၀၁၆ | | |
| ၇ | ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့် အကြိမ် နှင့်နေ့ရက် | | ၁၀/၂၀၁၆ | |
| | **စုစုပေါင်းကြာမြင့်ရက်** | ( ၄၁ ) ရက် | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Htoo Trading Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - | လီမိတက်ကုမ္ပဏီ (Private Company ဖြစ်ပါသည်။) |
| လုပ်ငန်းအမျိုးအစား | - | နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း |
| တည်နေရာ | - | ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (VT-၄၀)၊ မြပြင်ကြေးတိုင်ပြင်ကွင်း၊ ဦးပိုင်အမှတ် (၂+၁၀၇)ရှိ မြေဧရိယာ ၆၃.၀၅ ဧကအနက် ၅.၅၄ ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၆,၃၁၁.၈၀ သန်း |
| လုပ်ငန်းသက်တမ်း | - | ကနဦး ၅၀ နှစ် |
| အရင်းကြေကာလ | - | ၃ နှစ် ၃ လ |
| IRR | - | ၃၀.၄၆ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၂.၁၆ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင် ကြေး | | ကျပ် ၁.၁၇ သန်း |
| ၃ | ကုန်သွယ်လုပ်ငန်းခွန် | | ကျပ် ၁၆၇၁.၄၇ သန်း |
| ၄ | သွင်းကုန်အခွန် ကင်းလွတ်ခွင့် | - | |
| ၅ | ဝင်ငွေခွန် | ကျပ် ၁၇၉၅.၃၆ သန်း | ကျပ် ၂၈၆၇.၅၀ သန်း |
| ၆ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | ကျပ် ၅.၁၆ သန်း |
| ၇ | CSR (၂ %) | | ကျပ် ၁၉၂.၈၃ သန်း |
| ၈ | လျှပ်စစ်ဓါတ်အား သုံးစွဲခ | | ကျပ် ၈၂၀.၀၀ သန်း |
| ၉ | အလုပ်အကိုင် အခွင့်အလမ်း | | ပြည်တွင်း(၉၈)ဦး |
| | | ပြည်တွင်း လုပ်သား(၉၈)ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသ စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူ ပြုစေပါသည်။ | |
| | | **ကျပ် ၁၇၉၇.၅၂ သန်း** | **ကျပ် ၅၅၅၈.၁၃ သန်း** |
| | **Cost : Benefit** | **၁ : ၃** | |

## မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် Htoo Trading Co., Ltd. မှ B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့် နှင့်စပ်လျဉ်းသည့် အဓိကအချက်များ

| | | | |
|---|---|---|---|
| ၁ | ကုမ္ပဏီအမည်/<br>ကမကထပြုသူ | - | Htoo Trading Co., Ltd.<br>ဦးသီဟ (ဒါရိုက်တာ) |
| ၂ | အဖွဲ့အစည်းပုံသဏ္ဌာန် | - | လီမိတက်ကုမ္ပဏီ<br>(Private Company ဖြစ်ပါသည်။) |
| ၃ | လုပ်ငန်းအမျိုးအစား | - | နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း |
| ၄ | တည်နေရာ | - | ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (VT-၄၀)၊ မြပြင်ကြေးတိုင်ပြင်ကွင်း၊ ဦးပိုင်အမှတ် (၂+၁၀၇) |
| ၅ | မြေအကျယ်အဝန်း | - | မြေဧရိယာ ၅.၅၄ ဧက |
| ၆ | နှစ်စဉ်မြေငှားရမ်းခ | - | ကျပ် ၂၂၇ သိန်း နှင့် US$ ၁၃၈၅၀ (၂)မျိုးလုံးဖြင့် နှစ်စဉ်ပေးသွင်းပါမည်။ |
| ၇ | မြေအသုံးချမှုပရီမီယံကြေး | - | ၁ဧကလျှင် ကျပ် ၂၅၀၀ သိန်းနှုန်း ဖြင့် စုစုပေါင်း ကျပ် ၁၃၈၅၀ သိန်း |
| ၈ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - | Generator (၃)လုံး<br>(300 KVA၊ 315 KVA၊ 175 KVA) |
| ၉ | လုပ်ငန်းသက်တမ်း | - | ကနဦး နှစ် ၅၀ |
| ၁၀ | တည်ဆောက်ရေးကာလ | - | ၁ နှစ် |
| ၁၁ | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | | **- ကျပ် ၆,၃၁၁.၈၀ သန်း** |

| | ယခင် မတည်ငွေရင်း ကျပ်(သန်း) | ယခု မတည်ငွေရင်း ကျပ်(သန်း) | စုစုပေါင်း မတည်ငွေရင်း ကျပ်(သန်း) |
|---|---|---|---|
| - Cash | ၁၀၀.၀၀ | - | ၁၀၀.၀၀ |
| - Building cost (Infrastructure) | ၈၄၆.၆၁ | ၁၅၉.၈၃ | ၁၀၀၆.၄၄ |
| - Building cost (Bungalow) | ၂၅၁၂.၇၆ | - | ၂၅၁၂.၇၆ |
| - Building cost (Room Types) | - | ၁၃၅၆.၃၈ | ၁၃၅၆.၃၈ |
| - Laundry & Linen Room | - | ၂၁၄.၀၄ | ၂၁၄.၀၄ |
| - Hotel Furniture | ၁၅၉.၂၆ | ၃၃၆.၉၃ | ၄၉၆.၁၉ |
| - Hotel Equipment | ၁၆၆.၃၇ | ၂၃၁.၉၅ | ၃၉၈.၃၂ |
| - Hotel Household Expenses | ၁၁၄.၈၉ | - | ၁၁၄.၈၉ |
| - Hotel Fire Alarm | ၂.၀၅ | - | ၂.၀၅ |
| - Land Plot(2) | ၁၁၀.၇၃ | - | ၁၁၀.၇၃ |
| **စုစုပေါင်း** | **၄၀၁၂.၆၇** | **၂၂၉၉.၁၃** | **၆၃၁၁.၈၀** |

<table>
<tr><td>၁၂</td><td>ဝန်ဆောင်မှု<br>(၆ နှစ်မြောက်)</td><td></td><td>
<table>
<tr><th>စဥ်</th><th>အမျိုးအစား</th><th>အခန်း အရေအတွက်</th><th>Occupancy Rate (%)</th><th>ဝန်ဆောင်ခ (တစ်နေ့/တစ်ခန်းလျှင်) US$</th></tr>
<tr><td>(က)</td><td>Bungalow</td><td>၄၂</td><td>၆၀</td><td>၂၈၀</td></tr>
<tr><td>(ခ)</td><td>Deluxe</td><td>၆၄</td><td>၆၀</td><td>၂၀၀</td></tr>
<tr><td></td><td>စုစုပေါင်း</td><td>၁၀၆</td><td></td><td></td></tr>
</table>
</td></tr>
<tr><td>၁၃</td><td>ဝင်ငွေ<br>အသုံးစရိတ်<br>အသားတင်အမြတ်</td><td>-<br>-<br>-</td><td>ကျပ် ၅၃၁၀.၈၄ သန်း<br>ကျပ် ၄၀၈၀.၈၃ သန်း<br>ကျပ် ၁၂၃၀.၀၁ သန်း</td></tr>
<tr><td>၁၄</td><td>နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် (၆နှစ်မြောက်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန်</td><td><br>-<br>-</td><td><br>ကျပ် ၄၁၀.၀၀ သန်း<br>ကျပ် ၂၅၂.၉၀ သန်း</td></tr>
<tr><td>၁၅</td><td>အရင်းကြေကာလ</td><td>-</td><td>၃ နှစ် ၃ လ</td></tr>
<tr><td>၁၆</td><td>အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR)</td><td>-</td><td>၃၀.၄၆ %</td></tr>
<tr><td>၁၇</td><td>ဝန်ထမ်းအင်အား<br>ပြည်တွင်း</td><td><br>-</td><td><br>၉၈ ဦး (တစ်လလျှင် ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၈၀၀,၀၀၀ ဖြစ်ပါသည်။)</td></tr>
<tr><td>၁၈</td><td>ငွေကြေးအထောက်အထား</td><td>-</td><td>နိုင်ငံခြားငွေအထောက်အထားအဖြစ် Htoo Trading Co., Ltd. ၏ အမည်ဖြင့် MYANMA FOREIGN TRADE BANK တွင် (၃၀-၃-၂၀၁၅)နေ့ ရက်စွဲဖြင့် ငွေလက်ကျန် အမေရိကန်ဒေါ်လာ ၈၉၅,၀၈၇.၄၂ နှင့် ကျပ်ငွေအထောက်အထားအဖြစ် Htoo Trading Co., Ltd. ၏ အမည်ဖြင့် Asia Green Development Bank (Kamayut)တွင် (၂၈-၅-၂၀၁၅)နေ့ ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၆၅,၀၂၁၁.၁၈ ရှိကြောင်း တင်ပြထားပါသည်။</td></tr>
<tr><td>၁၉</td><td>(၁၃-၉-၂၀၀၇) နေ့တွင် ချုပ်ဆိုပြီး စာချုပ်ပါ အဓိကအချက်များ</td><td>-</td><td>ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး နှင့် Htoo Trading Co., Ltd. တို့ B.O.T စနစ်ဖြင့် ငပလီ ကမ်းခြေရှိ တပ်ပိုင်မြေဧရိယာ (၅.၅၄)ဧကကို (၁၃-၉-၂၀၀၇)ရက်စွဲဖြင့် နေပြည်တော်တွင် ချုပ်ဆိုခဲ့ပါသည်။ ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှု မူဝါဒကောင်စီ အစည်းအဝေး အမှတ်စဥ် (၂၅/၂၀၀၇) ဆုံးဖြတ်ချက်အရ ငှားရမ်းခြင်းသက်တမ်း ကနဦး(၃၀)နှစ် နှင့် နောက်ထပ်(၅)နှစ် (၂) ကြိမ် စုစုပေါင်း နှစ်(၄၀) ငှားရမ်းမည်ဖြစ်သည်။</td></tr>
</table>

| | | | |
|---|---|---|---|
| | | | မြေဧရိယာ (၅.၅၄)ဧက အတွက် ငှားရမ်းခ နှုန်းထားကို အောက်ပါအတိုင်း ပေးဆောင်ရမည်-<br>(က) မြေငှားရမ်းခအား (၁-၁-၂၀၀၇) ရက်နေ့မှစ၍ တွက်ချက်ရမည်။<br>(ခ) မြေငှားရမ်းခအဖြစ် တစ်နှစ်အတွက် ငွေကျပ် ၂၂၇ သိန်း နှင့် အမေရိကန်ဒေါ်လာ (သို့) အက်ဖ်အီးစီ ၁၃၈၅၀ နှစ်မျိုးလုံး ပေးသွင်းရမည်။<br>(ဂ) နှစ်စဉ် ငှားရမ်းခကို (၆)လလျှင် တစ်ကြိမ်၊ (၂)ကြိမ်ခွဲ၍ ပေးသွင်းရမည်။<br>(ဃ) မြေငှားရမ်းခကို (၅)နှစ် (၁) ကြိမ် နှစ်ဖက်ပြန်လည် ညှိနှိုင်းသုံးသပ်ရမည်။ ထပ်မံတိုးမြှင့်မည်ဆိုပါက မူလငှားရမ်းခ၏(၁၅%) ထက် မကျော်လွန်စေရ။<br>(င) စာချုပ် ချုပ်ဆိုမည့် နေ့မှစ၍ (၂)နှစ်အတွင်း အပြီးဆောက်လုပ်၍ ဖွင့်လှစ်ရမည်။ ဖွင့်လှစ်နိုင်ခြင်း မရှိပါက ငှားရမ်းထားသော မြေအား အငှားချထားသူထံသို့ ပြန်လည်အပ်နှံရမည်ဖြစ်ပြီး အငှားချထားခြင်းခံရသူမှ ပေးသွင်းခဲ့သော မြေငှားရမ်းခများကို ပြန်လည်ထုတ်ပေးခြင်း မရှိစေရ။ |
| ၂၀ | ချုပ်ဆိုမည့်စာချုပ်<br>(မူကြမ်း)ပါ တင်ပြချက်များ | - | ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ချုပ်ဆိုမည့် B.O.T စာချုပ်(မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-<br>(၁) နှစ်စဉ်မြေငှားရမ်းခကာလမှာ ကနဦးနှစ်(၅၀)နှင့် တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် (၂)ကြိမ် သက်တမ်းတိုးမြှင့် ငှားရမ်းမည် ဖြစ်ပါသည်။<br>**အပိုဒ်-၃(ခ)**<br>(၂) နှစ်စဉ် မြေငှားရမ်းခအား တစ်နှစ်လျှင် ကျပ် ၂၂၇ သိန်းနှင့် US$-၁၃၈၅၀ နှစ်မျိုးလုံးဖြင့် နှစ်(၅၀) ပေးသွင်းမည် ဖြစ်သည်။<br>**အပိုဒ်-၄(ခ)**<br>(၃) မြေအသုံးချမှုပရီမီယံကြေးအဖြစ် စုစုပေါင်း ကျပ် ၁၃၈၅၀ သိန်း ပေးသွင်းမည်ဖြစ်ပြီး မြေ(၁)ဧကလျှင် ကျပ် ၂၅၀၀ သိန်းနှုန်းဖြင့်-<br>(က) B.O.Tစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ (၁)လ အတွင်း ပထမအကြိမ် (၂၅%)<br>(ခ) B.O.T စာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ (၈)လ အတွင်း ဒုတိယအကြိမ် (၂၅%)<br>(ဂ) B.O.T စာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ (၁၆)လအတွင်း တတိယအကြိမ် (၂၅%)<br>(ဃ) B.O.T စာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ (၂၄)လအတွင်း |

| | | | |
|---|---|---|---|
| | | | စတုတ္ထအကြိမ် (၂၅%)<br>(င) မြေအသုံးချမှု ပရီမီယံကြေးကို အထက်ပါသဘောတူညီချက် အတိုင်း အချိန်မီ ပေးချေခြင်း မရှိပါက ကျော်လွန်သည့် တစ်ရက်လျှင် ပေးချေရမည့်ငွေ၏(၀.၀၅%) နှင့် ညီမျှသော ငွေကို ဒဏ်ကြေးအဖြစ် အငှားချထားခြင်းခံရသူက ပေး ဆောင်ရမည်။ **အပိုဒ်-၄(ဂ)**<br>(၄) နှစ်စဉ်မြေငှားရမ်းခနှုန်းထားကို (၅)နှစ်တစ်ကြိမ် နှစ်ဖက်ပြန်လည် ညှိနှိုင်းသုံးသပ်၍ ငှားရမ်းခထပ်မံတိုးမြှင့်မည်ဆိုပါက ယင်းတိုးမြှင့် မည့်နှုန်းသည် မူလငှားရမ်းခ၏ (၁၅%) ထက် မကျော်လွန်စေရ။ **အပိုဒ်-၄(ဃ)**<br>(၅) အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်း တိုးမြှင့်လိုပါက ကနဦး သက်တမ်း မကုန်ဆုံးမီ အနည်းဆုံး(၃)လ ကြိုတင်၍ အငှားချထားသူသို့ စာဖြင့် အကြောင်းကြားတင်ပြရမည်။ ကနဦး နှစ်(၅၀)ငှားရမ်းပြီး နှစ်ဖက် သဘောတူညီချက် ရရှိပြီးပါက တစ်ကြိမ်လျှင် (၁၀) နှစ်ဖြင့် သက်တမ်း(၂)ကြိမ်အထိ စာချုပ် သက်တမ်း တိုးမြှင့်နိုင်သည်။ သက်တမ်း တိုးမြှင့်ခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက် ရရှိမှသာ အတည် ဖြစ်စေရမည်။ **အပိုဒ်-၈(ခ)**<br>(၆) ၂၀၀၇ ခုနှစ်၊ စက်တင်ဘာလ ၉ ရက်နေ့တွင် ချုပ်ဆိုခဲ့သော မူလစာချုပ်အား ပယ်ဖျက်၍ ဤသဘောတူ စာချုပ်အား အစားထိုးရမည် ဖြစ်ပါသည်။ **အပိုဒ်-၂၂** |
| ၂၀ | အခြားတင်ပြချက် | -<br><br><br><br><br>-<br><br><br>- | လုပ်ငန်း၏ နှစ်စဉ်အသားတင် အမြတ်ငွေ ၂% အား လူမှုရေးဆိုင်ရာ တာဝန်ယူမှု(CSR)အဖြစ် သုံးစွဲသွားမည့်အစီအစဉ် နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက်အစီအစဉ်၊ မီးဘေး ကြိုတင် ကာကွယ်ရေးစီမံချက် နှင့် လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်း သက်သာချောင်ချိရေးစီမံချက် အစီအစဉ်တို့အား တင်ပြထားပါသည်။<br>အဆောက်အဦအကွက်ချပုံစံ (Site Plan) အဆောက်အဦအမျိုးအစား အလိုက်၏ အရေအတွက်ပုံစံ (Drawing) များအား တင်ပြထားပါ သည်။<br>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ငပလီကမ်းခြေတွင် ဟိုတယ် လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ခွင့်ပြုမိန့် ထုတ်ပေးခဲ့သည့် လုပ်ငန်းများ မှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်- |

| စဉ် | ကုမ္ပဏီ အမည်/ ခွင့်ပြုမိန့် အမှတ် | လုပ်ငန်း အမျိုးအစား | တည်နေရာ |
|---|---|---|---|
| ၁ | ပုဂံသံတဲဟိုတယ် အုပ်စု ကုမ္ပဏီ လီမိတက် ၇၀၁/ ၂၀၀၉ (၃၀-၆-၂၀၀၉) | B.O.T စနစ်ဖြင့် ဟိုတယ်လုပ်ငန်း | ရခိုင်ပြည်နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ် (VT-40) |
| ၂ | Eden Hotels & Resort Co.,Ltd. ၁၀၂၃/၂၀၁၅ (၇-၁-၂၀၁၅) | B.O.T စနစ်ဖြင့် ကြယ်ငါးပွင့် အဆင့်ရှိ နိုင်ငံတကာ အဆင့်မီဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း | ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ အမှတ်(၃၈) ရပ်ကွက်၊ ဇီးဖြူကုန်းကျေးရွာ အုပ်စု၊ ကွင်းအမှတ်-၂၀၁ (ကွန်းခြံကွင်း)၊ ဦးပိုင် အမှတ် -၁၈-က၊င၊ ၂၆-က၊ ၂၆-ခ၊ ဃ၊င၊ ၂၇-က-ခ-ဃ၊ ၂၈ |
| ၃ | Adventure MyanmarTour & Incentives Co., Ltd. ၁၀၆၉/၂၀၁၅ (၂၄-၇-၂၀၁၅) | B.O.T စနစ်ဖြင့် ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း | ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ အမှတ်(၃၈) ရပ်ကွက်၊ ဇီးဖြူကုန်းကျေးရွာ အုပ်စု၊ ကွင်းအမှတ် (၂၀၂) ၊ ဦးပိုင်အမှတ် ၆၅-က၊ ၁၀၆၊ ၁၀၇-ဃ၊င၊စ၊ ၁၀၈-က၊ခ၊ ပေလီကမ်းခြေ |
| ၄ | Fortune International Limited ၁၁၀၉ /၂၀၁၅ (၁၆-၁၂-၂၀၁၅) | B.O.T စနစ်ဖြင့် အခန်း (၁၀၀)ပါ နိုင်ငံတကာ အဆင့်မီဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း | ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်း ကျေးရွာအုပ်စု၊ မြေကွက် အမှတ်-၃၈၊ ကွင်းအမှတ်-၂၀၁ (ကွန်းခြံကွင်း)၊ ဦးပိုင်အမှတ်-စ/၂၁+ ဆ/၂၁+ ဃ/၂၁+ ခ/၂၁+ က/၂၂+ ခ/၂၂ ရှိ မြေဧရိယာ (၂.၆၃) ဧက နှင့် ကွင်းအမှတ်-၂၀၂ (ဇီးဖြူကုန်းကွင်း)၊ ဦးပိုင် အမှတ်- N/၁၄+ က/၉၅/၁+ က/၉၅/၂+ ၉၆ ရှိ မြေဧရိယာ (၃.၀၂) ဧက |

| စဉ် | ကုမ္ပဏီ အမည်/ ခွင့်ပြုမိန့် အမှတ် | လုပ်ငန်း အမျိုးအစား | တည်နေရာ |
|---|---|---|---|
| ၅ | Jade Marina Resort Hotel Co., Ltd. ၁၁၄၀/၂၀၁၆ | B.O.T စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း | ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (VT-၄၀)၊ ကြေးတိုင်ပြင်ကွင်း၊ ဦးပိုင်အမှတ် (၁+၂၁၀၆+၁၀၇)ရှိ မြေဧရိယာ ၆.၆၀ ဧက |

| | | | |
|---|---|---|---|
| ၂၂ | စိစစ်တင်ပြချက် | -<br>-<br>- | အဆိုပြုလုပ်ငန်းတွင် Deluxe (၁၆) ခန်းပါဝင်သော သုံးထပ်အဆောက်အဦ (၄) လုံးအား ထပ်မံတိုးချဲ့ ဆောက်လုပ်သွားမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ လက်ရှိအခန်း အရေအတွက်မှာ ၄၂ ခန်းနှင့် ထပ်မံတိုးချဲ့မည့်အခန်းအရေအတွက်မှာ ၆၄ ခန်းဖြင့် စုစုပေါင်း ၁၀၆ ခန်းဖြင့် လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ပါသည်။<br>လုပ်ငန်းဆောင်ရွက်မည့်မြေမှာ မြေစာရင်းပုံစံ (၁၀၅) ရေးကူးခွင့်ရရှိထားသည့်အပြင် ကာကွယ်ရေးဝန်ကြီးဌာနပိုင် အမည်ပေါက်ရရှိထားပြီး ဖြစ်ပါသည်။<br>၂၀၀၇ ခုနှစ်၊ စက်တင်ဘာလ ၉ ရက်နေ့တွင် ချုပ်ဆိုခဲ့သော မူလစာချုပ်အား ပယ်ဖျက်၍ ယခုချုပ်ဆိုမည့် သဘောတူ စာချုပ်အား အစားထိုး ချုပ်ဆိုမည်ဖြစ်ကြောင်း မြေငှားစာချုပ်(မူကြမ်း) အပိုဒ် (၂၂) တွင် ဖော်ပြထားပါသည်။ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက-၄/မ-၁၅၃၀/၂၀၁၆( ၄၃၁ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ် လ ၁၇ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **Htoo Trading Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ် (VT-၄၀)၊ မြေဧရိယာ ၆၃.၀၅ ဧကအနက် ၅.၅၄ ဧကတွင် Aureum Palace Hotel & Resort (Ngapali) အမည်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး မှတစ်ဆင့် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ Htoo Trading Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ် (VT-၄၀)၊ မြေဧရိယာ ၆၃.၀၅ ဧကအနက် ၅.၅၄ ဧကတွင် Aureum Palace Hotel & Resort (Ngapali) အမည်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးသီဟမှ ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံးမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၆/၂၀၁၆)(၈-၂-၂၀၁၆) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး နှင့် Htoo Trading Co., Ltd. တို့အကြား B.O.T စနစ်ဖြင့် ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)အား ပူးတွဲ တင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်းအား ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ် (VT-၄၀)၊ မြေဧရိယာ ၆၃.၀၅ ဧကအနက် ၅.၅၄ ဧကတွင် Aureum Palace Hotel & Resort (Ngapali) အမည်ဖြင့် ဆောင်ရွက်မည်ဖြစ်ပါသည်။ နှစ်စဉ် မြေငှားရမ်းခအား တစ်နှစ်လျှင် မြန်မာငွေ ကျပ် ၂၂၇ သိန်း နှင့် US$ ၁၃၈၅၀ (၂)မျိုးလုံးဖြင့် ပေးသွင်းမည်ဖြစ်ပါသည်။

၄။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုသက်တမ်းကာလမှာ ကနဦး နှစ်(၅၀)နှင့် နောက်ထပ် (၁၀) နှစ် (၂)ကြိမ် သက်တမ်းတိုးမြှင့်မည်ဖြစ်ပါသည်။ တည်ဆောက်ရေးကာလမှာ (၁)နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း(၉၈)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ မှာ ကျပ် ၁၂၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၈၀၀,၀၀၀ ဖြစ်ပါသည်။

၆။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ် ၆၃၁၁.၈၀ သန်း ဖြစ်ပါသည်။ ဤအဆိုပြုလုပ်ငန်းတွင် အသုံးပြုမည့်လုပ်ငန်းသုံး ပစ္စည်းများနှင့် စက်ပစ္စည်း ကိရိယာများကို ပြည်တွင်းမှသာ ဝယ်ယူမည်ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | ယခင် မတည်ငွေရင်း ကျပ်(သန်း) | ယခု မတည်ငွေရင်း ကျပ်(သန်း) | စုစုပေါင်း မတည်ငွေရင်း ကျပ်(သန်း) |
|---|---|---|---|---|
| (က) | Cash | ၁၀၀.၀၀ | - | ၁၀၀.၀၀ |
| (ခ) | Building cost (Infrastructure) | ၈၄၆.၆၁ | ၁၅၉.၈၃ | ၁၀၀၆.၄၄ |
| (ဂ) | Building cost (Bungalow) | ၂၅၁၂.၇၆ | - | ၂၅၁၂.၇၆ |
| (ဃ) | Building cost (Room Types) | - | ၁၃၅၆.၃၈ | ၁၃၅၆.၃၈ |
| (င) | Laundry & Linen Room | - | ၂၁၄.၀၄ | ၂၁၄.၀၄ |
| (စ) | Hotel Furniture | ၁၅၉.၂၆ | ၃၃၆.၉၃ | ၄၉၆.၁၉ |
| (ဆ) | Hotel Equipment | ၁၆၆.၃၇ | ၂၃၁.၉၅ | ၃၉၈.၃၂ |
| (ဇ) | Hotel Household Expenses | ၁၁၄.၈၉ | - | ၁၁၄.၈၉ |
| (ဈ) | Hotel Fire Alarm | ၂.၀၅ | - | ၂.၀၅ |
| (ည) | Land Plot(2) | ၁၁၀.၇၃ | - | ၁၁၀.၇၃ |
| | စုစုပေါင်း | ၄၀၁၂.၆၇ | ၂၂၉၉.၁၃ | ၆၃၁၁.၈၀ |

၇။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ်(၆)နှစ်မြောက်တွင် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အခန်း အရေအတွက် | Occupancy Rate (%) | ဝန်ဆောင်ခ (တစ်နေ့/တစ်ခန်းလျှင်) US$ |
|---|---|---|---|---|
| (က) | Bungalow | ၄၂ | ၆၀ | ၂၈၀ |
| (ခ) | Deluxe | ၆၄ | ၆၀ | ၂၀၀ |
| | စုစုပေါင်း | ၁၀၆ | | |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ၆ နှစ်မြောက်တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

ကျပ်(သန်း)

(က) ဝင်ငွေ ၅၃၁၀.၈၄

(ခ) အသုံးစရိတ် ၄၀၈၀.၈၃

(ဂ) အသားတင်အမြတ် ၁၂၃၀.၀၁

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ၆ နှစ်မြောက်တွင် ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၄၁၀.၀၀ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၂၅၂.၉၀ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၃ နှစ် ၃ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း IRR မှာ ၃၀.၄၆ % ဖြစ်ပါသည်။

၁၀။ ယင်းအဆိုပြု လုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ တစ်ဖက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရခိုင်ပြည်နယ်အစိုးရအဖွဲ့** **နောက်ဆက်တွဲ-က**

Htoo Trading Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ် (VT-၄၀)၊ မြေဧရိယာ ၆၃.၀၅ ဧကအနက် မြေဧရိယာ ၅.၅၄ ဧကပေါ်တွင် Aureum Palace Hotel & Resort (Ngapali)ကို B.O.T စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးသိဟမှ ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း)၊ စစ်ထောက်ချုပ်ရုံးမှတစ်ဆင့် တင်ပြလာမှုအား ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာမှုနှင့် စပ်လျဉ်း၍ (၂၃-၂-၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရခိုင်ပြည်နယ်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၅/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ် (၄)၊ အပိုဒ်ခွဲ (က)၊ အပိုဒ်ခွဲငယ် (၂၈)အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထား ပြန်ကြားအပ်ပါကြောင်း။

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန** **နောက်ဆက်တွဲ-ခ**

(၁)အဆိုပြုလုပ်ငန်းများ ဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု(Corporate Social Responsibility- CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%)အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များကို လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၂)အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း **(Initial Environmental Examination -IEE)**ကို ဆောင်ရွက်ပြီး အစီရင်ခံရေးသားပြုစုတင်ပြရန်။

(၃)အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် **(Environmental Management Plan - EMP)**အား ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) နှင့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဥ် (Environmental Management Plan-EMP) အစီရင်ခံစာတို့အား ရေးဆွဲတင်ပြ၍ အကောင်အထည်ဖော် ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ၂၀၁၆ ခုနှစ် မတ် လ ၁၅ ရက်နေ့ ရက်စွဲပါစာဖြင့် တင်ပြထားပါသည်။)

(ဂ) ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန နောက်ဆက်တွဲ-ဂ

(၁) အဆိုပါ Htoo Trading Co., Ltd. မှ ငပလီကမ်းခြေတွင် Aureum Palace Hotel & Resort (Ngapali) အမည်ဖြင့် အခန်း (၄၂)ခန်းပါ ဟိုတယ်အား ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှုဦးစီးဌာန၏ ခွင့်ပြုလိုင်စင်အမှတ် (ဟ-၀၅၆၂)ဖြင့် ဟိုတယ်လုပ်ငန်းများကို (၂၆-၂-၂၀၀၈) ရက်နေ့မှ စတင်၍ ဆောင်ရွက်လျက်ရှိသည့်အပြင် ငပလီကမ်းခြေကို အဆင့်မြင့် ခရီးသွားလုပ်ငန်းဖွံ့ဖြိုးရေး ဇုန်တစ်ခုအဖြစ် ဖော်ထုတ်ရန် ဆောင်ရွက်ခြင်း၊ မြန်မာနိုင်ငံသို့ ကမ္ဘာလှည့်ခရီးသည်ရောက်ရှိမှုသည် ပိုမိုတိုးတက်လာပြီး ငပလီကမ်းခြေ၌လည်း နိုင်ငံတကာအဆင့်မီဟိုတယ်အခန်းများ လိုအပ်ခြင်း၊ ယင်းဟိုတယ်မှာလည်း စုစုပေါင်း (၁၀၆)ခန်းအနက် (၄၂)ခန်းဖြင့် ဖွင့်လှစ်ပြီး၊ လုပ်ငန်းဆောင်ရွက်နေသော ဟိုတယ်ဖြစ်ခြင်းနှင့် ယခုအခါတွင် ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးမှ တရားဝင် ငှားရမ်းဆောင်ရွက်မည် ဖြစ်ခြင်းတို့ကြောင့် ကန့်ကွက်ရန်မရှိပါကြောင်း။

(၂) ကမ်းခြေဒေသတွင် တည်ဆောက်မည်ဖြစ်၍ စနစ်တကျ ကြီးကြပ်ဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်သဖြင့် အခန်း(၆၄)ခန်းအား တိုးချဲ့ရန်နှင့်စပ်လျဥ်း၍ သက်ဆိုင်ရာ ရခိုင်ပြည်နယ် အစိုးရအဖွဲ့ နှင့် ရခိုင်ပြည်နယ် စည်ပင်သာယာရေးအဖွဲ့ တို့၏ ခွင့်ပြုချက်များ တင်ပြဆောင်ရွက်သွားရန် လိုအပ်ပါကြောင်း။

(၃) ဟိုတယ်တည်ဆောက်ရေးအတွက် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနမှ (၁-၁-၂၀၁၅)ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် (၂/၂၀၁၅) ၏ ကမ်းခြေခရီးစဥ်ဒေသ ရေရှည်တည်တံ့ခိုင်မြဲရေးအတွက် လိုက်နာဆောင်ရွက်ရန် အချက်များနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် လိုအပ်ပါကြောင်း နှင့် အထူးသဖြင့် သတ်မှတ်အမြင့်ပေထက် ပို၍ထပ်ခိုးတင်ခြင်း၊ အမိုး ထပ်တင်ခြင်းများ၊ တည်ဆောက်ရေးလုပ်ငန်းများတွင် အသုံးပြုရန် ကမ်းခြေသောင်များ၌ သဲများတူးခြင်းများအား မပြုလုပ်ရန် လိုအပ်ပါကြောင်း။

(၄) Htoo Trading Co., Ltd. မှ ငှားရမ်းမည့် အခန်းခနှုန်းထားတွင် Bungalow (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ (၂၅၀)၊ Deluxe (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ (၁၆၀) စသည်ဖြင့် နှုန်းများ သတ်မှတ်ဖော်ပြထားသဖြင့် အနည်းငယ်မြင့်မားသော ဈေးနှုန်းဖြစ်၍ ငှားရမ်းခနှုန်းထားများ နှင့် အသုံးပြုမည့်ပစ္စည်းများ၊ ပေးအပ်မည့် ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင့်ရန် လိုအပ်ကြောင်း။

(၅) Htoo Trading Co., Ltd. မှ ထပ်မံတိုးချဲ့မည့် အခန်းများအတွက် အသုံးပြုသွားရန် ပြည်ပမှ တင်သွင်းမည့် တည်ဆောက်ရေးပစ္စည်းများ၊ ဟိုတယ်လုပ်ငန်းသုံး ပစ္စည်းများနှင့် ပတ်သက်၍ အခွန်သက်သာခွင့်မှာ ကော်မရှင်၏ အဆုံးအဖြတ်သာ ရယူရမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါကြောင်း။

(၆) ဟိုတယ်လုပ်ငန်း လိုင်စင်လျှောက်ထားရာတွင် အိပ်ခန်းအရေအတွက်နှင့်အချိုးညီ ခန့်အပ်မည့်ဝန်ထမ်းအားလုံးသည် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆိုင်ရာ သင်တန်း ဆင်းလက်မှတ်များ တင်ပြနိုင်ရန်လိုအပ်သဖြင့် ကြိုတင်စီမံဆောင်ရွက်ထားနိုင်ရန် နှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ပတ်သက်ပြီး ရေဆိုး၊ အမှိုက်နှင့် အညစ်အကြေး စွန့်ပစ်မှုစနစ်များအား စနစ်တကျ စီမံဆောင်ရွက်ထားရန် လိုအပ် ကြောင်း တင်ပြအပ်ပါကြောင်း။

၁၁။ နိုင်ငံခြားငွေ အထောက်အထားအဖြစ် Htoo Trading Co., Ltd. ၏ အမည်ဖြင့် MYANMA FOREIGN TRADE BANK တွင် (၃၁-၃-၂၀၁၅)နေ့ ရက်စွဲဖြင့် ငွေလက်ကျန် အမေရိကန်ဒေါ်လာ ၈၉၅,၀၈၇.၄၂ နှင့် ကျပ်ငွေ အထောက်အထားအဖြစ် Htoo Trading Co., Ltd. ၏ အမည်ဖြင့် Asia Green Development Bank (Kamayut)တွင် (၂၈-၅-၂၀၁၅)နေ့ ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၆၅,၀၂၀.၁၈ ရှိကြောင်း တင်ပြထားပါသည်။

၁၂။ Htoo Trading Co., Ltd. မှ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓာတ်အားများ သုံးစွဲမှုအတွက် နိုင်ငံတော်မှ လျှပ်စစ်ဓါတ်အားကိုရရှိပါက သုံးစွဲမည်ဖြစ်ပြီး လျှပ်စစ်ဓါတ်အား မရရှိ သည့်အခါတွင် ကိုယ်ပိုင်မီးစက် Generators(300 KVA၊ 315 KVA၊ 175 KVA)အမျိုးအစား (၃)လုံး ဖြင့် လုပ်ငန်းလည်ပတ်သွားမည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၃။ အဆိုပြု လုပ်ငန်းသည် မြန်မာနိုင်ငံသားများဖြင့်သာ ဖွဲ့စည်းတည်ထောင်ထားသော ကုမ္ပဏီ ဖြစ်ပါကြောင်း၊ နိုင်ငံခြားမှ နိုင်ငံခြားသား မည်သူမျှ ပိုင်ဆိုင်မှု မရှိပါကြောင်းနှင့် ဖြစ်ပေါ်လာသည့် ကိစ္စအဝဝကို တာဝန်ယူမည်ဖြစ်ကြောင်း နှင့် ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်း ကျင် ထိန်းသိမ်းရေးနှင့်သန့်ရှင်းသာယာရေးစီမံချက်အစီအစဉ်၊ မီးဘေး ကြိုတင်ကာကွယ်ရေး စီမံချက် နှင့် လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်အစီအစဉ်တို့အား ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။ အဆိုပြုလုပ်ငန်းအတွက် ကုမ္ပဏီမှ နှစ်စဉ်အသားတင်အမြတ်ငွေ ၂ % အား လူမှုရေးဆိုင်ရာ တာဝန်ယူမှု(CSR)အဖြစ် သုံးစွဲသွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ ကုမ္ပဏီမှ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပြည်တွင်းအတတ်ပညာရှင်များ၊ ရုံးဝန်ထမ်းများ၊ ဟိုတယ်အလုပ်သမားများ ခန့်အပ်၍ နိုင်ငံတကာအဆင့်မီ ဟိုတယ်စီမံကိန်းလုပ်ငန်းအား ဆောင်ရွက် သွားမည်ဖြစ်သောကြောင့် အဆိုပါဝန်ထမ်းများ၏ လုပ်ခလစာနှင့်ပတ်သက်၍ လက်ရှိနိုင်ငံတော်မှ ချမှတ်ထားသော ဝင်ငွေခွန်ဥပဒေနှင့်အညီ ဝင်ငွေခွန်များကို ပေးဆောင်သွားမည်ဖြစ်ပါကြောင်း ဝန်ခံ ကတိပြု တင်ပြထားပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ဂ၊စ၊ဆ၊ဇ၊ည) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို ကော်မရှင်သို့ တင်ပြလျှောက်ထား လာလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

၁၆။ **စိစစ်တင်ပြချက် -**

(က) အဆိုပြုလုပ်ငန်းတွင် Deluxe (၁၆) ခန်းပါဝင်သော သုံးထပ်အဆောက်အဦ (၄) လုံးအား ထပ်မံတိုးချဲ့ ဆောက်လုပ်သွားမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ လက်ရှိအခန်းအရေအတွက်မှာ ၄၂ ခန်းနှင့် ထပ်မံတိုးချဲ့မည့်အခန်းအရေအတွက်မှာ ၆၄ ခန်းဖြင့် စုစုပေါင်း ၁၀၆ ခန်းဖြင့် လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ပါသည်။

(ခ ) လုပ်ငန်းဆောင်ရွက်မည့်မြေမှာ မြေစာရင်းပုံစံ (၁၀၅) ရေးကူးခွင့် ရရှိထားသည့်အပြင် ကာကွယ်ရေးဝန်ကြီးဌာနပိုင် အမည်ပေါက်ရရှိထားပြီး ဖြစ်ပါသည်။

(ဂ) ၂၀၀၇ ခုနှစ် စက်တင်ဘာလ ၉ ရက်နေ့တွင် ချုပ်ဆိုခဲ့သောမူလစာချုပ်အား ပယ်ဖျက်၍ ယခုချုပ်ဆိုမည့် သဘောတူစာချုပ်အား အစားထိုးချုပ်ဆိုမည် ဖြစ်ကြောင်း မြေငှားစာချုပ်(မူကြမ်း)၊ အပိုဒ် (၂၂)တွင် ဖော်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ Htoo Trading Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ် (VT-၄၀)၊ မြေဧရိယာ ၆၃.၀၅ ဧကအနက် ၅.၅၄ ဧကတွင် Aureum Palace Hotel & Resort (Ngapali) အမည်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
ရခိုင်ပြည်နယ်

စာအမှတ်၊ (၁၅၅)/၄/၇-၄(စီးပွား) အဖရ(ရခိုင်)
ရက် စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၁၄ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံလာသည့်ကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရန်ကုန်မြို့၏ (၁၀-၂-၂၀၁၆) ရက်စွဲပါစာအမှတ်၊ ရက-၄/မ-၁၅၃၀/၂၀၁၆(၁၉၄)

Htoo Trading Co,Ltd.မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ် (VT-၄၀)၊ မြေ ၆၃.၀၅ ဧကအနက် မြေ ၅.၅၄ဧကတွင် Aureum Palace Hotel& Resort (Ngapali)ကို B.O.Tစနစ်ဖြင့် နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် ရင်းနှီးမြှုပ်နှံသူဦးသီဟမှ ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံးမှတဆင့်တင်ပြလာမှုအား ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာမှုနှင့်စပ်လျဉ်း၍ (၂၃-၂-၂၀၁၆) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရခိုင်ပြည်နယ်အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၅/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ် (၄)၊ အပိုဒ်ခွဲ(က)၊ အပိုဒ်ခွဲငယ် (၂၈) အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ပြည်နယ်ဝန်ကြီးချုပ်(ကိုယ်စား)
(တင်မောင်ဆွေ၊အတွင်းရေးမှူး)

မိတ္တူကို
ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ နေပြည်တော်
ရုံးလက်ခံ
မျှောစာတွဲ

နောက်ဆက်တွဲ (ခ)




Mg - 480
7/13

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/MIC(OSS)/ECD/၀၁(၆၁/၁၇)
ရက် စွဲ ၊၂၀၁၆ခုနှစ် မတ် လ ၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Htoo Trading Co.,Ltd မှ နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၄/ မ-၁၅၃၀/ ၂၀၁၆(၁၆၆)

၁။ Htoo Trading Co.,Ltd မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ်(VT-၄၀)မြေ ၆၃.၀၅ဧကအနက် မြေ၅.၅၄၉ဧကတွင် Aureum Palace Hotle & Resort(Ngapali)အမည်ဖြင့် နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် ပတ်သက်ပြီးစီစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင်ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦး(၅၀)နှစ်နှင့်သက်တမ်းတိုး(၁၀)နှစ်(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်မှုကာလမှာ(၁)နှစ်ဖြစ်ကြောင်း၊ ဟိုတယ်တွင် ဘန်ဂလို(၄၂)လုံးနှင့် De Luxe(၆၄)ခန်း၊ စုစုပေါင်း(၁၀၆)ခန်းပါဝင်ကြောင်း၊ ဝန်ထမ်းသက်သာချောင်ချိရေးနှင့်မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်များကိုလည်း ထားရှိဆောင်ရွက် သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏(၂%)ကိုလူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု ( Corporate Social Responsibility- CSR )လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ Htoo Trading Co.,Ltd မှဟိုတယ်ဆောက်လုပ်ခြင်းလုပ်ငန်းများမှ မြေသားပြုပြင်ဖော်ထုတ်ခြင်းလုပ်ငန်းများမှထွက်ရှိလာမည့် အမှုန့်အမွှားဖုန်မှုန့်များကြောင့် ပတ်ဝန်းကျင်လေ

ထု ညစ်ညမ်းခြင်း၊ အသုံးပြုမည့်စက်ယန္တရားများ၏ စက်သုံးဆီ၊ အမဲဆီ၊ အင်ဂျင်ဝိုင်စသော စွန့်ပစ်ဆီများကြောင့် ပတ်ဝန်းကျင်မြေထုနှင့် လေထုညစ်ညမ်းခြင်းနှင့်အသံဆူညံခြင်း၊ အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့်မိလ္လာအညစ်အကြေးများကြောင့်မြေထု၊ ရေထုနှင့်လေထု ညစ်ညမ်းခြင်းစသော ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Htoo Trading Co.,Ltdမှ နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိုစွန့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility- CSR )အတွက်အသားတင်အမြတ်ငွေ၏ (၂%)အား အသုံးပြုခြင်းတို့အပါအဝင်ကတိကဝတ်များကို လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း( Initial Environmental Examination – IEE )ကို ဆောင်ရွက်ပြီး အစီရင်ခံရေးသားပြုစုတင်ပြရန်။

(ဂ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်(Environmental Management Plan - EMP )အား ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီးရုံးလက်ခံ

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။ ၂၀၁၆ ခုနှစ် မတ် လ ( ၁၅ )ရက်

အကြောင်းအရာ။ ။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား ပြန်ကြားချက်နှင့်အညီ ပြင်ဆင်တင်ပြမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုတင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ထူး ကူးသန်းရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက် (Htoo Trading Company Limited) သည် မြေအကျယ်အဝန်း (၅.၅၄)ဧက ရှိ ကွင်းအမှတ် (VT-၄၀)၊ မြပြင်ကျေးရွာ ၊ သံတွဲမြို့နယ် ၊ ရခိုင်ပြည်နယ် ၊ ငပလီကမ်းခြေ တွင် ပြည်တွင်းပြည်ပမှ ဧည့်သည်များ အနားယူ အပန်းဖြေနိုင်ရန်နှင့် ဒေသန္တရ ဗဟုသုတများ လေ့လာနိုင်ရန် အတွက် နိုင်ငံတကာ အဆင့်မီ အော်ရီယမ်ပဲလေ့ ဟိုတယ်နှင့် အပန်းဖြေစခန်း-ငပလီ တည်ဆောက်ခြင်းလုပ်ငန်း လုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

၂။ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း လုပ်ဆောင်ရာတွင် စွန့်ပစ် ပစ္စည်းများ၊ ရေဆိုးများ စသည်တို့ ကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်လေထုနှင့်ရေထု ညစ်ညမ်းမှုမရှိစေရန်နှင့် ပတ်ဝန်းကျင်ရှိ လူတို့၏ ကျန်းမာရေးကို မထိခိုက်စေရေးတို့အတွက် အကာအကွယ်ပေးဆောင်ရွက်ရမည့်နည်းလမ်းများ၊ စွန့်ပစ်ပစ္စည်း အမျိုးမျိုးတို့အတွက် ဆောင်ရွက်သွားရမည့်နည်းလမ်းများအတိုင်း ထည့်သွင်းဆောင်ရွက်သွားပါမည်။ သဘာဝ ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုရှိ-မရှိ ကြိုတင်လေ့လာဆန်းစစ်မှု (Initial Environmental Examination - IEE ) ကိုဆောင်ရွက်ပြီး တွေ့ရှိချက်များအပေါ်အခြေခံလျက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက် (Environmental Management Plan -EMP) ကို ရေးဆွဲတင်ပြ၍ အကောင်အထည်ဖော်ဆောင်ရွက်သွားပါမည်ဟု ဝန်ခံကတိပြု အပ်ပါသည်။

၃။ နိုင်ငံတော်မှ ထုတ်ပြန် ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေတို့နှင့်အညီ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်သွားပါမည်ဟု လည်း ဝန်ခံကတိပြု အပ်ပါသည်။

လေးစားစွာဖြင့်

THI HA
DIRECTOR
HTOO TRADING CO., LTD.

**နောက်ဆက်တွဲ (ဂ)**





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ **၁၈ - ဂ (အုပ်ချုပ်မှု)/နပတ/ ၀၄၅၀**
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ **ဖေဖော်ဝါရီ** လ ၁၇ ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀-၂-၂၀၁၆) ရက်စွဲပါ စာအမှတ် ရက-၄/မ-၁၅၃၀/၂၀၁၆ (၁၉၅)

၁။ Htoo Trading Co.,Ltd မှ ရခိုင်ပြည်နယ်၊သံတွဲခရိုင်၊သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ်(VT-၄၀)၊မြေ(၆၃.၀၅)ဧကအနက် မြေ(၅.၅၄)ဧကတွင် Aureum Place Hotel & Resort (Ngapali)အမည်ဖြင့် BOTစနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးသီဟမှ ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊စစ်ထောက်ချုပ်ရုံးမှတဆင့် အဆိုပြုတင်ပြခြင်းအပေါ် သဘောထားမှတ်ချက်ပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ Htoo Trading Co.,Ltd မှ ငပလီကမ်းခြေတွင် Aureum Place Hotel & Resort(Ngapali)အမည်ဖြင့် အခန်း(၄၂)ခန်းပါဟိုတယ်အား ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန၏ခွင့်ပြုလိုင်စင်အမှတ်(ဟ-၀၅၆၂)ဖြင့်ဟိုတယ်လုပ်ငန်းများကို(၂၆-၂-၂၀၀၈ ) ရက်နေ့မှစတင်၍ ဆောင်ရွက်လျှက်ရှိသည့်အပြင်ငပလီကမ်းခြေကိုအဆင့်မြင့်ခရီးသွားလုပ်ငန်းဖွံ့ဖြိုးရေးဇုန်ကစ်ခုအဖြစ် ဖော်ထုတ်ရန်ဆောင်ရွက်ခြင်း၊မြန်မာ့နိုင်ငံသို့ ကမ္ဘာလှည့်ခရီးသည်ရောက်ရှိမှုသည် ပိုမိုတိုးတက်လာပြီး၊ ငပလီကမ်းခြေ၌လည်း နိုင်ငံတကာအဆင့်မီဟိုတယ်အခန်းများလိုအပ်ခြင်း၊ ယင်းဟိုတယ်မှာလည်း စုစုပေါင်း(၁၀၆)ခန်းအနက်(၄၂)ခန်းဖြင့် ဖွင့်လှစ်ပြီး၊ လုပ်ငန်းဆောင်ရွက်နေသော ဟိုတယ်ဖြစ်ခြင်းနှင့် ယခုအခါတွင်ကာကွယ်ရေးဝန်ကြီးဌာန၊စစ်ထောက်ချုပ်ရုံးမှတရားဝင်ငှားရမ်းဆောင်ရွက်မည်ဖြစ်ခြင်း တို့ကြောင့်ကန့်ကွက်ရန်မရှိပါ။

၃။ ကမ်းခြေဒေသတွင်တည်ဆောက်မည်ဖြစ်၍ စနစ်တကျကြီးကြပ်ဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်သဖြင့်အခန်း(၆၄)ခန်းအားတိုးချဲ့ရန်နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ ရခိုင်ပြည်နယ်အစိုးရအဖွဲ့နှင့် ရခိုင်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့တို့၏ခွင့်ပြုချက်များတင်ပြဆောင်ရွက်သွားရန်လိုအပ်ပါသည်။

၄။ ဟိုတယ်တည်ဆောက်ရေးအတွက် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနမှ (၁-၁-၂၀၁၅) ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် (၂/၂၀၁၅) ၏ ကမ်းခြေခရီးစဉ်ဒေသရေရှည် တည်တံ့ခိုင်မြဲရေးအတွက် လိုက်နာဆောင်ရွက်ရန်အချက်များနှင့်အညီ လိုက်နာဆောင်ရွက်သွားရန်လိုအပ်ပါသည်။ အထူးသဖြင့် သတ်မှတ်အမြင့်ပေထက်ပို၍ ထပ်ခိုးတင်ခြင်း၊ အမိုးထပ်တင်ခြင်းများ၊တည်ဆောက်ရေးလုပ်ငန်းများတွင် အသုံးပြုရန် ကမ်းခြေသောင်များ၌ သဲများတူးခြင်းများအားမပြုလုပ်ရန်လိုအပ်ပါသည်။

၅။ Htoo Trading Co.,Ltd မှ ငှားရမ်းမည့် အခန်းခနှုန်းထားတွင် Bungalow (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ(၂၅၀)၊ Deluxe (၁)ခန်းလျှင်အမေရိကန်ဒေါ်လာ(၁၆၀)စသည်ဖြင့် နှုန်းများသတ်မှတ်ဖော်ပြထားသဖြင့်အနည်းငယ်မြင့်မားသော ဈေးနှုန်းဖြစ်၍ငှားရမ်းခနှုန်းထားများနှင့်အသုံးပြုမည့်ပစ္စည်းများ၊ ပေးအပ်မည့်ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင့်ရန် လိုအပ်ပါသည်။

၆။ Htoo Trading Co.,Ltd မှ ထပ်မံတိုးချဲ့မည့် အခန်းများအတွက်အသုံးပြုသွားရန် ပြည်ပမှတင်သွင်းမည့် တည်ဆောက်ရေးပစ္စည်းများ ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများနှင့်ပတ်သက်၍ အခွန်သက်သာခွင့်မှာကော်မရှင်၏ အဆုံးအဖြတ်သာရယူရမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

၇။ ဟိုတယ်လုပ်ငန်းလိုင်စင်လျှောက်ထားရာတွင် အိပ်ခန်းအရေအတွက်နှင့်အချိုးညီခန့်အပ်မည့်ဝန်ထမ်းအားလုံးသည်ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆိုင်ရာသင်တန်းဆင်းလက်မှတ်များတင်ပြနိုင်ရန်လိုအပ်သဖြင့်ကြိုတင်စီမံဆောင်ရွက်ထားနိုင်ရန်နှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်ပြီးရေဆိုး၊အမှိုက်နှင့်အညစ်အကြေးစွန့်ပစ်မှုစနစ်များအားစနစ်တကျစီမံဆောင်ရွက်ထားရန်လိုအပ်ပါကြောင်းတင်ပြအပ်ပါသည်။

၁၈.၂.၂၀၁၆

(ဦးမြေးအောင်)

ပြည်ထောင်စုဝန်ကြီး

မိတ္တူကို-ရုံးလက်ခံ/မျှော

ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ

ရင်းနှီးမြုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

ထူး ကူးသန်းရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက်

(အော်ရီယမ် ပဲလေ့ ဟိုတယ်နှင့် အပန်းဖြေစခန်း–
ငပလီ စီမံကိန်း)

× × × × × × × × × × × × × × × ×



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)
စစ်ထောက်ချုပ်ရုံး

စာအမှတ်၊ ၉၀၄/မသ-ဟိုတယ်/ထောက်၅က
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၂၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ အဆိုပြုချက် ပြင်ဆင်ပေးပို့ တင်ပြခြင်းကိစ္စ

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၃- ၈-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၄/မ-ထွေ/ ၂၀၁၅(၆၀၄)

၁။ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ကွင်းအမှတ်(VT-၄၀)၊ပေလီကမ်းခြေရှိမြေ ၆၃. ၀၅ဧကအနက် မြေ ၅. ၅၄ ဧကတွင် Htoo Trading Co., Ltd., သည် Aureum Palace Hotel & Resort(Ngapali)အမည်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းအပေါ် ရည်ညွှန်းပါစာဖြင့် အဆိုပြုချက်အား ပြန်လည်ပြင်ဆင်ပေးပို့ရန် အကြောင်းကြားလာခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ ကုမ္ပဏီ၏အဆိုပြုချက်များအားပြင်ဆင်ဖြည့်စွက်ပြီးအောက်ပါအတိုင်း ဆောင်ရွက်မည် ဖြစ်ပါသည်-

(က) လုပ်ငန်းအသစ်နှင့်လုပ်ငန်းအဟောင်းခွဲခြား၍ မူလလုပ်ငန်း၊တိုးချဲ့လုပ်ငန်းအပိုင်းလိုက်ဖြင့် ပြန်လည်တင်ပြခြင်း။

(ခ) လုပ်ငန်းဆောင်ရွက်မည့် တိုးချဲ့ရင်းနှီးမြှုပ်နှံမှု မြန်မာ/နိုင်ငံခြားငွေပမာဏစာရင်းများပြန်လည် ပြင်ဆင်တင်ပြခြင်း။

၃။ အထက်ပါအတိုင်းပြင်ဆင်ပြုစုပြီးဖြစ်ပါသဖြင့် လိုအပ်သလို ဆက်လက်ဆောင်ရွက်ပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

စစ်ထောက်ချုပ် (ကိုယ်စား)

မိတ္တူကို

Htoo Trading Co., Ltd.,

Hotel(9)-77




# HTOO TRADING COMPANY LIMITED

No. 5, Pyay Road, Hlaing Township, Yangon, Myanmar. Tel : (95-1) 500 344, 500 355, 502 627, 504 418
Fax : (95-1) 502 629, 502 692 E-mail : htc3@htootrading.com.mm




သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။ ၂၀၁၆ ခုနှစ် ၊ဇန်နဝါရီ လ၊ ( ၂၉ ) ရက်

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်ပေးပို့ခြင်း

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ထူး ကုန်သွယ်ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက် (Htoo Trading Company Limited)သည် မြေအကျယ်အဝန်း (၅.၅၄)ဧက ရှိ ကွင်းအမှတ် (VT 40)၊ မြပြင်ကျေးရွာ ၊ သံတွဲမြို့နယ် ၊ ရခိုင်ပြည်နယ် ၊ ငပလီကမ်းခြေတွင် ပြည်တွင်းပြည်ပမှ ဧည့်သည်များ အနားယူ အပန်းဖြေနိုင်ရန်နှင့် ဒေသန္တရ ဗဟုသုတများ လေ့လာနိုင်ရန်အတွက် နိုင်ငံတကာ အဆင့်မှီ အော်ရီယမ်ပဲလေ့ ဟိုတယ်နှင့် အပန်းဖြေစခန်း-ငပလီ တည်ဆောက်ခြင်းလုပ်ငန်း လုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ ထူး ကုန်သွယ်ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက် (Htoo Trading Company Limited)၏ အဆိုပြုလွှာ (၂၅)စုံကို လိုအပ်သလို ဆောင်ရွက်ပေးနိုင်ရန်အတွက် ပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

[signature]

THI HA
DIRECTOR
HTOO TRADING CO., LTD.




# HTOO TRADING COMPANY LIMITED

No. 5, Pyay Road, Hlaing Township, Yangon, Myanmar. Tel : (95-1) 500 344, 500 355, 502 627, 504 418
Fax : (95-1) 502 629, 502 692 E-mail : htc3@htootrading.com.mm




သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။ ၂၀၁၆ ခုနှစ် ၊ဇန်နဝါရီ လ၊ ( ၂၉ ) ရက်

အကြောင်းအရာ ။ ပြည်ထောင်စုမြန်မာနိုင်ငံတော် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များလျှောက်ထားခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ထူး ကုန်သန်းရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက် (Htoo Trading Company Limited) သည် မြေအကျယ်အဝန်း (၅.၅၄)ဧက ရှိ ကွင်းအမှတ် (VT 40)၊ မြပြင်ကျေးရွာ ၊ သံတွဲမြို့နယ် ၊ ရခိုင်ပြည်နယ် ၊ ငပလီကမ်းခြေတွင် ပြည်တွင်းပြည်ပမှ ဧည့်သည်များ အနားယူ အပန်းဖြေနိုင်ရန်နှင့် ဒေသန္တရ ဗဟုသုတများ လေ့လာနိုင်ရန်အတွက် နိုင်ငံတကာ အဆင့်မီ အော်ရီယမ်ပဲလေ့ ဟိုတယ်နှင့် အပန်းဖြေစခန်း-ငပလီ တည်ဆောက်ခြင်းလုပ်ငန်း လုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍၊ နိုင်ငံတော်အတွက် ရသင့်ရထိုက်သော အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက် လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင် အခွင့်အလမ်းများ ရရှိစေရန်အတွက် လည်းကောင်း၊ ဟိုတယ်အခန်းငှားရမ်းခြင်းမှ နိုင်ငံခြားဝင်ငွေရရှိစေရန်အတွက်လည်းကောင်း၊ နိုင်ငံသားများ စီးပွားရေး ဖွံ့ဖြိုးတိုးတက်စေခြင်း အလို့ငှာလည်းကောင်း၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် ပြည်ထောင်စု မြန်မာနိုင်ငံတော် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကိုလည်း ပေးအပ်ပါရန် ရိုသေလေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။

၃။ ထို့ပြင်၊ ဟိုတယ်လုပ်ငန်းမှ ရရှိသော နိုင်ငံခြားငွေဖြင့်လည်းကောင်း၊ ကျပ်ငွေဖြင့်လည်းကောင်း ရရှိသော ဝင်ငွေ အား ပထမ (၅)နှစ်အတွက် ကုန်သွယ်လုပ်ငန်းခွန် သက်သာခွင့်ပြုရန် ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာနသို့ လျှောက်ထားခွင့်ပြုပါရန် မေတ္တာရပ်ခံတင်ပြအပ်ပါသည်။




# HTOO TRADING COMPANY LIMITED

No. 5, Pyay Road, Hlaing Township, Yangon, Myanmar. Tel : (95-1) 500 344, 500 355, 502 627, 504 418
Fax : (95-1) 502 629, 502 692 E-mail : htc3@htootrading.com.mm






၄။ လျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါအထောက်အထားစာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်-

(၁) ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ကမကထပြုလုပ်သူ၏ ဆောင်ရွက်ရန် အဆိုပြုချက်၊

(၂) လုပ်ငန်းပိုင်း နှင့် ငွေရေးကြေးရေး အထောက်အထားများ၊

(၃) ကုမ္ပဏီ သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်း၊

(၄) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်သည့် တွက်ချက်မှု ဇယားများ၊

လေးစားစွာဖြင့်

THI HA
DIRECTOR
HTOO TRADING CO., LTD.



# HTOO TRADING COMPANY LIMITED

No. 5, Pyay Road, Hlaing Township, Yangon, Myanmar. Tel : (95-1) 500 344, 500 355, 502 627, 504 418
Fax : (95-1) 502 629, 502 692 E-mail : htc3@htootrading.com.mm



သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။ ၂၀၁၆ ခုနှစ် ဇန်နဝါရီ လ၊ ( ၂၉ ) ရက်

အကြောင်းအရာ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်း နှင့်ပတ်သက်၍ ကတိခံဝန်ချက်ပေးပို့ခြင်း

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ထူး ကုန်သွယ်ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက် (Htoo Trading Company Limited)သည် မြေအကျယ်အဝန်း (၅.၅၄)ဧက ရှိ ကွင်းအမှတ် (VT 40)၊ မြပြင်ကျေးရွာ ၊ သံတွဲမြို့နယ် ၊ ရခိုင်ပြည်နယ် ၊ ငပလီကမ်းခြေတွင် ပြည်တွင်းပြည်ပမှ ဧည့်သည်များ အနားယူ အပန်းဖြေနိုင်ရန်နှင့် ဒေသန္တရ ဗဟုသုတများ လေ့လာနိုင်ရန်အတွက် နိုင်ငံတကာ အဆင့်မီ အော်ရီယမ်ပဲလေ့ ဟိုတယ်နှင့် အပန်းဖြေစခန်း–ငပလီ တည်ဆောက်ခြင်းလုပ်ငန်း လုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

၂။ ကုမ္ပဏီအနေဖြင့် နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

၃။ ထို့ပြင်၊ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည် ဖြစ်ကြောင်းနှင့် မီးဘေးအန္တရာယ် မဖြစ်ပွားစေရန် စီမံချက်များချမှတ်လျက် ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

၄။ ကုန်ပစ္စည်းအရောင်းမြှင့်တင်ရေးအတွက်လည်းကောင်း၊ အခကြေးငွေယူ၍လည်းကောင်း၊ စားသောက်ဆိုင် နှင့် ဟိုတယ်၌ Stage Show, Fashion Show နှင့် Model Show များပြုလုပ်ရာတွင် အမျိုးသားယဉ်ကျေးမှု ထိန်းသိမ်း သွားနိုင်ရန်အတွက် သက်ဆိုင်ရာဌာန/အဖွဲ့အစည်း အသီးသီးမှ ညွှန်ကြားချက်များကို သိရှိ လိုက်နာ ဆောင်ရွက် မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၅။ လျှပ်စစ်ဓါတ်အား မရရှိသောအချိန်တွင် ကိုယ်ပိုင်မီးစက်ဖြင့် ထားရှိဆောင်ရွက်မည်ဖြစ်ပါသည်။

၆။ လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

THI HA
DIRECTOR
HTOO TRADING CO., LTD.




# HTOO TRADING COMPANY LIMITED

No. 5, Pyay Road, Hlaing Township, Yangon, Myanmar. Tel: (95-1) 500344, 500355, 502627, 504418
Fax: (951) 502629, 502692, E-mail: htc3@htootrading.com.mm




သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။ ၂၀၁၆ ခုနှစ် ဇန်နဝါရီ လ၊ ( ၂၉ ) ရက်

အကြောင်းအရာ။ ။ဟိုတယ်ဝန်ထမ်းများသက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအတွက် စီစဉ်ဆောင်ရွက်ထားမှုများအား တင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ထူး ကူးသန်းရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက် (Htoo Trading Company Limited)သည် မြေအကျယ်အဝန်း (၅.၅၄)ဧက ရှိ ကွင်းအမှတ် (VT 40)၊ မြပြင်ကျေးရွာ ၊ သံတွဲမြို့နယ် ၊ ရခိုင်ပြည်နယ် ၊ ငပလီကမ်းခြေတွင် ပြည်တွင်းပြည်ပမှ ဧည့်သည်များ အနားယူ အပန်းဖြေနိုင်ရန်နှင့် ဒေသန္တရ ဗဟုသုတများ လေ့လာနိုင်ရန် အတွက် နိုင်ငံတကာ အဆင့်မီ အော်ရီယမ်ပဲလေ့ ဟိုတယ်နှင့် အပန်းဖြေစခန်း-ငပလီ တည်ဆောက်ခြင်းလုပ်ငန်း လုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

၂။ ကုမ္ပဏီအနေဖြင့် ဟိုတယ်တွင် အလုပ်လုပ်ကိုင် တာဝန်ထမ်းရွက်နေကြသည့် ဟိုတယ်ဝန်ထမ်းနှင့် အလုပ်သမားများအတွက် အောက်ဖော်ပြပါ ကဏ္ဍများအလိုက် အလုပ်သမား သက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေး တို့အတွက် စီစဉ် ဆောင်ရွက်ထားရှိနေပါကြောင်းအား လိုအပ်သလို အရေးယူ ဆောင်ရွက်နိုင်ရန် တင်ပြအပ်ပါသည်-

(၁) ဟိုတယ်တွင် ဝန်ထမ်းများအတွက် နေ့လည်စာနှင့်လက်ဖက်ရည် ကျွေးမွေးပါမည်။

(၂) ဟိုတယ်လုပ်ငန်းနယ်ပယ်သို့ စတင်ဝင်ရောက်မည့်သူများအတွက် နိုင်ငံတကာ အဆင့်မီ ဟိုတယ်လုပ်ငန်းဆိုင်ရာ သင်တန်းများအား ဟိုတယ်၏ အစီအစဉ်ဖြင့် တက်ရောက်နိုင်ရန် စီစဉ်ပေးသွားမည်ဖြစ်ပါသည်။

(၃) ဟိုတယ်ရှိဝန်ထမ်းများ အချိန်ပိုဆင်းရပါက တစ်နာရီအတွက် လုပ်အားခငွေကြေးအား (၂)ဆ တွက်ချက်ပေးပါမည်။

(၄) ဟိုတယ်တွင် ရှေးဦးသူနာပြုသေတ္တာများနှင့် နာမကျန်းသူများ နားနေခန်း(၁)ခန်း စီစဉ်ထားရှိပါမည်။ ထိခိုက်ဒဏ်ရာရရှိပါက လူမှုဖူလုံရေးဆေးခန်းသို့ စေလွှတ်၍ ဆေးဝါးကုသမှု ခံယူစေပါမည်။ လူမှုဖူလုံရေးထည့်ဝင်ငွေများအားလည်း အလုပ်ရှင်ပိုင်းရော ၊အလုပ်သမားများ ပိုင်းပါ ထည့်ဝင်ပါမည်။

လေးစားစွာဖြင့်

THI HA
DIRECTOR
HTOO TRADING CO., LTD.



# HTOO TRADING COMPANY LIMITED

No. 5, Pyay Road, Hlaing Township, Yangon, Myanmar. Tel: (95-1) 500344, 500355, 502627, 504418
Fax: (951) 502629, 502692, E-mail: htc3@htootrading.com.mm



သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။ ၂၀၁၆ ခုနှစ် ၊ဇန်နဝါရီ လ၊ (၂၉) ရက်

အကြောင်းအရာ ။ ။ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်ထားရှိမည်ဖြစ်ကြောင်းဝန်ခံကတိပြုခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ထူး ကုန်သွယ်ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက် (Htoo Trading Company Limited) သည် မြေအကျယ်အဝန်း (၅.၅၄)ဧက ရှိ ကွင်းအမှတ် (VT 40)၊ မြပြင်ကျေးရွာ ၊ သံတွဲမြို့နယ် ၊ ရခိုင်ပြည်နယ် ၊ ငပလီကမ်းခြေတွင် ပြည်တွင်းပြည်ပမှ ဧည့်သည်များ အနားယူ အပန်းဖြေနိုင်ရန်နှင့် ဒေသန္တရ ဗဟုသုတများ လေ့လာနိုင်ရန်အတွက် နိုင်ငံတကာ အဆင့်မီ အော်ရီယမ်ပဲလေ့ ဟိုတယ်နှင့် အပန်းဖြေစခန်း-ငပလီ တည်ဆောက်ခြင်းလုပ်ငန်းလုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

မီးဘေးကာကွယ်ရေးကိစ္စနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း ကြိုတင်ကာကွယ်ရေး အစီအစဉ်များ ရေးဆွဲ ထားပါသည်-

(၁) ဟိုတယ်ဝင်းအတွင်း အရေးပေါ် သုံးစွဲနိုင်ရန် သင့်တင့် လျောက်ပတ်သော အကျယ်အဝန်းရှိသည့် ရေကန်များ ထားရှိပါမည်။
(၂) မီးသတ်ဘူးများကိုလည်း တစ်ဘူးနှင့်တစ်ဘူးကို (၁၀)ပေ အကွာတွင် ထားရှိပါမည်။
(၃) သဲပုံး ၊ ရေပုံး ၊ မီးချိတ် ၊ မီးကဒ်များကိုလည်း အဆင်ပြေအောင်ထားရှိပါမည်။
(၄) ဟိုတယ်မှ ထွက်ရှိလာသော အမှိုက်များကိုလည်း ကန်ဆောက်၍ စနစ်တကျ သိမ်းဆည်း ထားရှိပါမည်။ အမှိုက်သိမ်းဆည်းရေးအတွက် နယ်မြေခံ စည်ပင်သာယာရေးကော်မတီနှင့်လည်း ညှိနှိုင်းဆောင်ရွက်ပါမည်။
(၅) မီးသတ်ဦးစီးဌာနမှ ပို့ချသော သင်တန်းများကိုလည်း ဝန်ထမ်းများအား အလှည့်ကျ စေလွှတ်၍ တက်ရောက်စေပါမည်။

လေးစားစွာဖြင့်

THI HA
DIRECTOR
HTOO TRADING CO., LTD.



# HTOO TRADING COMPANY LIMITED

No. 5, Pyay Road, Hlaing Township, Yangon, Myanmar. Tel : (95-1) 500 344, 500 355, 502 627, 504 418
Fax : (95-1) 502 629, 502 692 E-mail : htc3@htootrading.com.mm

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။ ၂၀၁၆ ခုနှစ် ၊ဇန်နဝါရီ လ၊ ( ၂၉ ) ရက်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ကြောင်းကတိခံဝန်ချက်။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ထူး ကူးသန်းရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက် (Htoo Trading Company Limited)သည် မြေအကျယ်အဝန်း (၅.၅၄)ဧက ရှိ ကွင်းအမှတ် (VT 40)၊ မြပြင်ကျေးရွာ ၊ သံတွဲမြို့နယ် ၊ ရခိုင်ပြည်နယ် ၊ ငပလီကမ်းခြေတွင် ပြည်တွင်းပြည်ပမှ ဧည့်သည်များ အနားယူ အပန်းဖြေနိုင်ရန်နှင့် ဒေသန္တရ ဗဟုသုတများ လေ့လာနိုင်ရန် အတွက် နိုင်ငံတကာ အဆင့်မီ အော်ရီယမ်ပဲလေ့ ဟိုတယ်နှင့် အပန်းဖြေစခန်း–ငပလီ တည်ဆောက်ခြင်းလုပ်ငန်း လုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

၂။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသား (၇)ဦးဖြင့် ဖွဲ့စည်းတည်ထောင်ထားသော ကုမ္ပဏီဖြစ်ပါသည်။ ဤလုပ်ငန်းတွင် နိုင်ငံခြားမှ နိုင်ငံခြားသား မည်သူမျှ ပိုင်ဆိုင်မှု မရှိပါကြောင်းနှင့် ဖြစ်ပေါ်လာမည့် ကိစ္စအဝဝကို တာဝန်ယူမည်ဖြစ်ကြောင်း ဝန်ခံ ကတိပြုအပ်ပါသည်။

လေးစားစွာဖြင့်

THI HA
DIRECTOR



# HTOO TRADING COMPANY LIMITED

No. 5, Pyay Road, Hlaing Township, Yangon, Myanmar. Tel: (95-1) 500344, 500355, 502627, 504418
Fax: (951) 502629, 502692, E-mail: htc3@htootrading.com.mm



သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။ ၂၀၁၆ ခုနှစ် ၊ဇန်နဝါရီ လ၊ ( ၂၉ ) ရက်

အကြောင်းအရာ။ ။ Car Parking ထားရှိနိုင်မှု တင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ထူး ကူးသန်းရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက် (Htoo Trading Company Limited)သည် မြေအကျယ်အဝန်း (၅.၅၄)ဧက ရှိ ကွင်းအမှတ် (VT 40)၊ မြပြင်ကျေးရွာ ၊ သံတွဲမြို့နယ် ၊ ရခိုင်ပြည်နယ် ၊ ငပလီကမ်းခြေတွင် ပြည်တွင်းပြည်ပမှ ဧည့်သည်များ အနားယူ အပန်းဖြေနိုင်ရန်နှင့် ဒေသန္တရ ဗဟုသုတများ လေ့လာနိုင်ရန်အတွက် နိုင်ငံတကာ အဆင့်မီ အော်ရီယမ်ပဲလေ့ ဟိုတယ်နှင့် အပန်းဖြေစခန်း–ငပလီ တည်ဆောက်ခြင်းလုပ်ငန်း လုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

၂။ ထူး ကူးသန်းရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက်သည် ယခု ဆောက်လုပ်မည့် အော်ရီယမ်ပဲလေ့ ဟိုတယ်နှင့် အပန်းဖြေစခန်း–ငပလီတွင် ကားရပ်နားရန် နေရာများ (Car Parking) လုံလောက်စွာ စီစဉ်ထားမည် ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

THI HA
DIRECTOR
HTOO TRADING CO., LTD



# HTOO TRADING COMPANY LIMITED

No. 5, Pyay Road, Hlaing Township, Yangon, Myanmar. Tel: (95-1) 500344, 500355, 502627, 504418
Fax: (951) 502629, 502692, E-mail: htc3@htootrading.com.mm



သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။ ၂၀၁၆ ခုနှစ် ၊ဇန်နဝါရီ လ၊ ( ၂၉ ) ရက်

အကြောင်းအရာ။ ။ လျှပ်စစ်ဓါတ်အားနှင့်ပတ်သက်၍ ရှင်းလင်းတင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ထူး ကူးသန်းရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက် (Htoo Trading Company Limited) သည် မြေအကျယ်အဝန်း (၅.၅၄)ဧက ရှိ ကွင်းအမှတ် (VT 40)၊ မြပြင်ကျေးရွာ ၊ သံတွဲမြို့နယ် ၊ ရခိုင်ပြည်နယ် ၊ ငပလီကမ်းခြေ တွင် ပြည်တွင်းပြည်ပမှ ဧည့်သည်များ အနားယူ အပန်းဖြေနိုင်ရန်နှင့် ဒေသန္တရ ဗဟုသုတများ လေ့လာနိုင်ရန် အတွက် နိုင်ငံတကာ အဆင့်မီ အော်ရီယမ်ပဲလေ့ ဟိုတယ်နှင့် အပန်းဖြေစခန်း-ငပလီ တည်ဆောက်ခြင်းလုပ်ငန်း လုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

၂။ အော်ရီယမ်ပဲလေ့ ဟိုတယ်နှင့် အပန်းဖြေစခန်း-ငပလီသည် နိုင်ငံတော်မှ လျှပ်စစ်ဓါတ်အားကို ရရှိပါက သုံးစွဲမည် ဖြစ်ပြီး လျှပ်စစ်ဓါတ်အား မရရှိသော အချိန်တွင် ကိုယ်ပိုင်မီးစက်ဖြင့် သုံးစွဲမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Mhln

THI HA
DIRECTOR
HTOO TRADING CO., LTD.

